# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ-...၅၉၇.../ ၂၀၀၃ ။ ၂၀၀၃ ခုနှစ်၊ မတ် လ ၈ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ........ ဦး ကျော်စိန်

(ခ) အဘအမည် ........ ဦး ငွေတင်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ........ ၁၂/ဒဂန(နိုင်)၀၂၇၃၆၉

(ဃ) နေရပ်လိပ်စာ ........ အမှတ်(၁၁)၊ ကုက္ကိုင်း ရိပ်သာလမ်း၊ ဗဟန်း မြို့နယ်၊ ရန်ကုန်မြို့

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ........ ကက်ပါအင်တာနေရှင်နယ်လီမိတက် ( Kappa International Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ........ သရပါဟိုတယ်အဆောက်အဦး နှင့် မြေအား ငှားရမ်း၍BOT စနစ်ဖြင့်ဟိုတယ်လုပ်ငန်း ဆောင်ရွက်ရန်

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ........ မန္တလေးတိုင်း၊ ညောင်ဦး မြို့နယ်၊ ဝေါင်တီကျေး ရွာ၊ ကွင်း အမှတ်-၁၅၁၉၊ ဦး ပိုင်အမှတ်(၃၊ ၄၊ ၁၂၊ ၁၈၈)

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ........ (၁၂၀၀.၀၀) သန်း (ကျပ်တစ်ထောင့်နှစ်ရာသန်းတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊ ၃ ဂ /၂၀၀၃ (မနသ)
ရန်ကုန်မြို့၊ ၁၃၆၄ ခုနှစ်၊ တပေါင်းလဆန်း ၆ ရက်
(၂၀၀၃ ခုနှစ်၊ မတ်လ ၈ ရက်)

၁။ မြန်မာ ကုမ္ပဏီဖြစ်သော ကက်ပါ အင်တာနေရှင်နယ် လီမိတက် (Kappa International Ltd.)မှ ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန၊ မြန်မာ့ဟိုတယ်နှင့် ခရီးသွားလုပ်ငန်းပိုင်မြေ၊ ကွင်းအမှတ် ၁၅၁၉၊ ဦးပိုင်အမှတ် ၃၊ ၄၊ ၁၂၊ ၁၈၈၊ တောင်ဘီကျေးရွာ၊ ညောင်ဦးမြို့နယ်၊ မန္တလေးတိုင်းရှိ လန-၃၉ မြေ(၄.၇)ဧက (၁၉၀၂၀.၂၄ စတုရန်းမီတာ)ပေါ်ရှိ သရပါ ဟိုတယ်နှင့် မြေနေရာကို ငှါးရမ်း၍ BOT စနစ် ဖြင့် အခန်းသစ်များ တည်ဆောက်ပြီး ဟိုတယ်လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၂၃-၈-၂၀၀၂) နေ့တွင် ကျင်းပပြုလုပ် ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၈/၂၀၀၂)အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ဆက်လက်၍ (၃၀-၁-၂၀၀၃) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၅/၂၀၀၃) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီချက်အရ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်နှင့် အညီ (၂၇-၂-၂၀၀၃) နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၇/၂၀၀၃) အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ကက်ပါ အင်တာနေရှင်နယ် လီမိတက် (Kappa International Ltd.)အား ဟိုတယ်လုပ်ငန်းဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၅၉၈/၂၀၀၃ ကို ထုတ်ပေးလိုက်သည်။

၂။ ကက်ပါ အင်တာနေရှင်နယ် လီမိတက် (Kappa International Ltd.)အနေဖြင့် ဤခွင့်ပြု မိန့်အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ဝန်ဆောင်မှု လုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ဥပဒေပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃(ဂ)အရ ဝန်ဆောင်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့် အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန် အတွက်ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်းအကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ် အတွင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ် ခွင့်(သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံး ပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင် အထည်ဖော်နိုင်မှု အခြေအနေကိုဖော်ပြလျက်ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ်တန်ဖိုးလျော့ငွေကို သတ်မှတ်သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

၃။ ကက်ပါ အင်တာနေရှင်နယ် လီမိတက် (Kappa International Ltd.)သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ဝန်ဆောင်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၄။ ကက်ပါ အင်တာနေရှင်နယ် လီမိတက် (Kappa International Ltd.)သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၅။ ကက်ပါ အင်တာနေရှင်နယ် လီမိတက် (Kappa International Ltd.)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ အတည်ပြုပြီးဖြစ်သော BOT စနစ်ဖြင့် ဟိုတယ် နှင့် မြေနေရာ ငှါးရမ်းခြင်း သဘောတူစာချုပ်ပါ စည်းမျဉ်းစည်းကမ်းများအတိုင်း လိုက်နာဆောင်ရွက်ရမည်။

၆။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန၊ မြန်မာ့ဟိုတယ်နှင့် ခရီးသွားလုပ်ငန်းနှင့် ကက်ပါ အင်တာနေရှင်နယ် လီမိတက် (Kappa International Ltd.)တို့ ချုပ်ဆိုပြီးသည့် BOT စနစ်ဖြင့် ဟိုတယ်နှင့် မြေနေရာ ငှါးရမ်းခြင်း သဘောတူစာချုပ် မိတ္တူ (၅) စောင်ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

၇။ ကက်ပါ အင်တာနေရှင်နယ် လီမိတက် (Kappa International Ltd.)မှ ဟိုတယ်နှင့် မြေနေရာ ငှါးရမ်းခြင်း သက်တမ်းကာလကို စာချုပ်လက်မှတ်ရေးထိုးသည့် နေ့မှစတင်၍ (၁)နှစ် ပြည့်မြောက်သည့် နေ့(သို့မဟုတ်) ပထမအဆင့် တည်ဆောက်ပြီးစီး၍ ဟိုတယ်ကို တရားဝင်ဖွင့်လှစ်သည့် နေ့ရက်တို့အနက် စောရာရက်မှစ၍ နှစ်(၂၀)နှင့် နောက်ထပ် (၅)နှစ် သက်တမ်းဖြင့် (၂)ကြိမ် တိုးမြှင့်ခွင့်အတွက် နှစ်ဦးနှစ်ဖက် ညှိနှိုင်းပြီး မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက်ကို ရယူရမည်။

၈။ ငှါးရမ်းခနှုန်းများကို တစ်နှစ်လျှင် မြန်မာကျပ်ငွေ(၄၄.၀၀)သိန်းနှင့် နိုင်ငံခြားဝင်ငွေ၏ (၁၀)ရာခိုင်နှုန်းကို ပေးသွင်းရမည်။ ယင်းပေးသွင်းမည့် နိုင်ငံခြားငွေသည် တစ်နှစ်လျှင် အမေရိကန်ဒေါ်လာ/ FEC (၄၀၀၀) ထက်မနည်းစေရပါ။

၉။ ငှါးရမ်းခကို (၂)နှစ် တစ်ကြိမ် ပြန်လည် ညှိနှိုင်းရာတွင် ယခင် ငှါးရမ်းခနှုန်း၏ (၁၀)ရာခိုင်နှုန်း ထက် မပိုစေဘဲ ညှိနှိုင်းရမည်။

၁၀။ ငှါးရမ်းကာလကုန်ဆုံးသည့်အခါ မြေနှင့်အဆောက်အဦကို ရက်ပေါင်း(၃၀)အတွင်း ကောင်းမွန်သော အနေအထားအတိုင်း အဖိုးစားနား မပါရှိဘဲ မြန်မာ့ ဟိုတယ်နှင့် ခရီးသွားလုပ်ငန်းသို့ လွှဲပြောင်းပေးရမည်။

၁၁။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ကက်ပါ အင်တာနေရှင်နယ် လီမိတက် (Kappa International Ltd.)မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ်၃၃ပါ သတ်မှတ်ချက် များနှင့်အညီ ဤကော်မရှင်သို့ သီးခြား တင်ပြ လျှောက်ထားရမည်။

၁၂။ ကက်ပါ အင်တာနေရှင်နယ် လီမိတက် (Kappa International Ltd.)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံ များကို ဝန်ခံဂတိ ပြုထားသည့်အတိုင်း စံနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၃။ အဆိုပြုလုပ်ငန်းနှင့် ဆက်စပ်သော မော်တော်ယာဉ် ရပ်နားရန် (Car Parking) ကိစ္စကို စနစ်တကျ ဆောင်ရွက်ထားရှိရမည်။

၁၄။ ကက်ပါ အင်တာနေရှင်နယ် လီမိတက် (Kappa International Ltd.)သည် ပူးတွဲပါ ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင် ခံရမည်။ ထို့အပြင် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံ ဖြင့်ယား များဖြင့် (၆)လတစ်ကြိမ် (ဧပြီ/ အောက်တိုဘာလများ) မပျက်မကွက် ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြု လုပ်ငန်း စတင်ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၅။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြု နိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

၁၆။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသလိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်း နံပါတ်) တို့ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက် ကို ရယူရမည်။

၁၇။ ကက်ပါ အင်တာနေရှင်နယ် လီမိတက် (Kappa International Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ခြင်း မရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၁၈။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် [illegible] ခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မ[illegible]

တစ်နည်းနည်းဖြင့်စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာကစစ်ဆေးတွေ့ရှိလျှင် လုပ်ငန်းရပ်ဆဲရေးအတွက်သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်း ဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြု သူသည် မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ၁၅(င)အရ နောင်တွင် မည်သည့်ခွင့်ပြုမိန့်မျှထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

( ဦးသောင်း )
ဥက္ကဋ္ဌ

စာအမှတ်၊ ရက–၁/မ–၇၉၄/၂၀၀၂ (၅၁၀၄–က)
ရက်စွဲ၊ ၂၀၀၃ ခုနှစ်၊ မတ်လ ဂ ရက်။

ဖြန့်ဝေခြင်း–

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ မန္တလေးတိုင်း အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၄။ အစိုးရအဖွဲ့ရုံး။
၅။ ကာကွယ်ရေးဝန်ကြီးဌာန၊တပ်မတော်ထောက်လှမ်းရေးဌာနချုပ်ရုံး(ပြည်တွင်း ထောက်လှမ်းရေးဌာန)။
၆။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၇။ အလုပ်သမား ဝန်ကြီးဌာန။
၈။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၉။ ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန။
၁၀။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၁။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၂။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၃။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၄။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။
၁၅။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့် ခရီးသွား ညွှန်ကြားမှု ဦးစီးဌာန။
၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဟိုတယ်နှင့် ခရီးသွားလုပ်ငန်း။

၂၁။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၂၂။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၅။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။
၂၆။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၇။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များနှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။
၂၈။ အုပ်ချုပ်မှု ဒါရိုက်တာ၊ ကက်ပါ အင်တာနေရှင်နယ် လီမိတက် (Kappa International Ltd.)။